


## ထုတ်ဝေသူ၏ဆန္ဒ

ယနေ့ လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေး စာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ဆေးရောင်စုံ ကာတွန်း ရုပ်ပြုအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ် ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန် ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့် ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုး၊ ဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။



မောင်မျိုး
မြင့်မိုရ်မေမေစာပေ

## Publisher's Goodwill

I have tried to the best of my abilities for this color cartoon illustration to the young people especially for the children so that they can read religious books.

My intention is for the children and the young readers this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned with nationality, religion and help, teaching and culture.



Maung Myo
Myint Moh Maymay Literature

# မာတိကာ



# Contact

လပြည့်ည တစ်ညချမ်းမှာတော့...
In one fullmoon night.

ဘိုးဘိုးဖြူရဲ့အိမ်ရှေ့က လရောင်ဆမ်းထားတဲ့ ဝါးကွပ်ပျစ်လေးပေါ် ထိုင်ကြရင်း ဘိုးဘိုးဖြူက မြေးများဖြစ်ကြတဲ့ မေမြတ်နိုးနဲ့ ဟိန်းထက်အောင်တို့ကို ဗဟုသုတ ဖြစ်ဖွယ်ရာတွေ ပြောပြနေတယ်။

Under the moonlight, on the bamboo couch in front of grandpa Phyu's house, his grandchildren May Myat Noe, Hein Htet Aung and he tells them the knowledgeable events.

ကမ္ဘာသုံး ပြက္ခဒိန်အရ တစ်နှစ်မှာ အင်္ဂလိပ်လ(၁၂)လ ရှိသလို မြန်မာလလည်း (၁၂)လရှိတယ် မြေးတို့ရဲ့

Accordingly, the internationally used calendar, there are 12 month in a year. In Myanmar calendar, there are 12 months also.

မြန်မာ (၁၂)လမှာ ရာသီပန်း (၁၂)မျိုး ရှိသလို ပွဲတော်လည်း (၁၂)ပွဲ ရှိတယ်ကွဲ့.

There are 12 kinds of seasonal flowers and 12 kinds of festivals.








ပန်းကံ့ကော်၊ ရွှေစံကား
ငွေသားနု၊ စံပယ်မှန်။
မြတ်လေး၊ ခတ္တာနှင့်
ရွှေယင်းမာ၊ ကြာ၊ ခဝဲ
ဖွဲ့စ နှင်းလျှို။
သဇင်ကျန်
စွာတန်၊ ပေါက်လဲ
ပွင့်ဝတ်မှုန်၊ ရွှေဖီမင်း
သင်းထုံနံ့ကဲ။

Mesua, magnolia and sivery jasmin Star ipomea and land lily. In the misty season, chukrissia lotus and ridged gourd bloom. The orchid, silk cotton and flame of the forest bloom. With stamen of calophylium, permeate their fragrant in the air.



# တန်ခူးလ(သင်္ကြန်ပွဲ)

The Thingyan festival in Tagu

တန်ခူးလဟာ နှစ်တစ်နှစ်မှာ မြန်မာတို့ရဲ့ပထမဆုံးလဖြစ်ပြီး အင်္ဂလိပ်လအနေနဲ့ ဧပြီလနဲ့ တိုက်ဆိုင်နေတယ်ကွဲ့.

The month of Tagu for Myanmar is the first month and it corresponds with the English month April.

ဘိုးဘိုး တန်ခူးလမှာ သင်္ကြန်ပွဲတော် ကျင်းပကြတယ်နော်

The Thingyan festival is celebrated in the month of Tagu.

အေး ဟုတ်တယ်ကွဲ့. နေဦး တန်ခူးလရဲ့အကြောင်း အရင်ပြောပြဦးမယ်

Yes, I'll tell you about the month of Tagu first.

တန်ခူးလဟာ ရာသီအားဖြင့် မိဿရာသီ ဖြစ်ပြီး နက္ခတ်ကတော့ စိတြနက္ခတ်ပဲ ဖြစ်တယ်ကွဲ့.

Tagu is astrolgically in Meitta and the planet Seittra is in the sky.


ရာသီရုပ်ကတော့
ဆိတ်ထီးရုပ်ပဲကွဲ့၊ ရာသီပန်း
ကတော့ ကံ့ကော်ပန်းပဲ
The figure of the season is shown
with the head of a ram.
The sesonal flower is denoted
with Gangaw flower.
ဟာ ဘိုးဘိုး
တန်ခူးလမှာ ပိတောက်ပန်း
တွေ ပွင့်တယ်လေ၊ တန်ခူးလရဲ့
ရာသီပန်းဟာ ပိတောက်ပန်း
မဟုတ်ဘူးလား
Grandpa, the Padauk blooms
in the month of Tagu. So
its seasonal flower
is Padauk.
ရှေးစာဆိုတွေရဲ့သတ်မှတ်ချက်
ကတော့ တန်ခူးလရဲ့ ရာသီပန်း
ဟာ ကံ့ကော်ပန်းပဲကွဲ့.
But the ancient poet marked
the gangaw as seasonal
flower.

တန်ခူးလမှာ ပိတောက် ငုရင်ခတတ်ပန်းနဲ့ ပျဉ်းမပန်းတို့လည်း ဖူးပွင့်ပြီးနှစ်ဦးကို အလှဆင်ကြတယ်လေ

In the month of Tagu, Padauk, Laburnum and Yinkhat beautify the new year.

တန်ခူးလမှာ သင်္ကြန်ပွဲတော် ကျင်းပခဲ့တာကတော့ ပုဂံခေတ် ကတည်းကပဲကွဲ့

The Thingyan festival was held during the Bagan period.

သင်္ကြန်ဆိုတဲ့စကားဟာ ပါဠိကနေ ဆင်းသက်လာတာဖြစ်ပြီး အဓိပ္ပာယ်ကတော့ ကူးပြောင်းခြင်းပဲဖြစ်တယ်ကွဲ့၊ နှစ်ဟောင်းကနေ နှစ်သစ်ဆီ ကူးပြောင်းတဲ့အထိမ်းအမှတ်အဖြစ် ကျင်းပတဲ့ပွဲတော်ပဲပေါ့ကွယ်

The word Thingyan derived from pali and its meaning is transfer from old year to a new one.




မြန်မာမှန်ရင် သင်္ကြန်ကို
ချစ်ကြတယ်ကွဲ့
The Myanmar people love the Thingyan festival.


သားတို့လည်း ချစ်တယ်
ဘိုးဘိုး သင်္ကြန်ကျရင် သားတို့
ရေပက်ရတာ ပျော်စရာကြီး
We love Thingyan too because we can splash one another with water joyfully.




ဟုတ်တယ် ဘိုးဘိုး
သမီးလည်း သူငယ်ချင်းတွေ စုပြီး
ရေပက်ခံကားနဲ့
လျှောက်လည်ရတာ ပျော်စရာ
သိပ်ကောင်းတာပဲ
It's very joyful to be splashed with the friend in the motor-car.




သကြန်ပွဲတော်
ကျင်းပတဲ့ကာလဟာ အပူရှိန်
ပြင်းပြလှတဲ့နွေကာလဖြစ်တာမို့ အပူဒဏ်က
သက်သာစေဖို့ မေတ္တာဓာတ်ကို ကိုယ်စားပြုတဲ့
ရေအေးအေးလေးနဲ့ ဖျန်းပက်ကြတာပဲကွဲ့.
The Thingyan festival is observed
in the hot season. To get a cold
sensation, the Thingyan water
serves as love and clean
and cool.


နှစ်ဟောင်းက
စိတ်အညစ်အကြေးတွေ
အကုသိုလ်တွေကို အတာရေနဲ့ဆေးတဲ့
သဘောမျိုးလို့လည်း မှတ်ယူနိုင်တယ်ကွဲ့.
The sins and dirt from past
are washed away with water.


ဒါကြောင့် ရေပက်ခံသူတို့
ရေလိုအေးပြီး ပန်းလိုလန်းပါစေ
ဆိုတဲ့ စေတနာမျိုးနဲ့ အတာရေပက်
ဖျန်းရင် ပက်ဖျန်းသူမှာကုသိုလ်တောင်
ရနိုင်တယ်မြေးတို့ရဲ့.
With that benevolence, splashing
will be the virtuous deed.



ရှေးတုန်းကဆို
ငွေဖလားထဲမှာ နံ့သာရေတွေထည့်ပြီး
သပြေခက်နဲ့ဖျန်းပက်ကြတယ်
In the olden days, fragrant water was put into the silver bowl and sprinkled this water with sprig of eugenia leaves.

သားတို့ကတော့
ရေပြွတ်နဲ့ပက်တယ်
ဘိုးဘိုး
We hose the with the squirt.

ပြွတ်စုတ်လေးနဲ့
ပက်တာလောက်တော့ရယ်တာ
ပေါ့ရယ်တာပေါ့ ဟဲ ဟဲ ဟဲ
It's laughable to be splashed by a squirt.

သမီးတို့ကတော့ ရေကစား
မဏ္ဍပ်မှာ ရေပိုက်နဲ့ပက်တယ်
We splash the water at the pandal with the hose pipe.



အေးကွဲ့ သင်္ကြန်ရေပက်ဖျန်းရာမှာ
သိမ်မွေ့တဲ့မြန်မာ့မှု မြန်မာ့ဟန်တွေ ကွယ်ပျောက်
ပြီး သူတစ်ပါးဒဏ်ရာအနာတရဖြစ်စေအောင် ရေခဲထုပ်
ရေပူဖောင်းတွေနဲ့ ပစ်ပေါက်တာတို့...
Now, the auspicious and polite thingyan is disappeard. They splash forcefully to get any pain and throw with water bubble.

ကဲဟာ
Take that.

Err!

အားပြင်းလှတဲ့
ကွန်ပရက်ဆာရေပိုက်ကြီးတွေနဲ့
ပက်တာမျိုး မပြုလုပ်သင့်ကြဘူးကွဲ့
They throw water with high energy compressor pump. Such acts should not do like that.







ပုဂံခေတ်တုန်းက ပုဂံဘုရင် နရသီဟပတေ့မင်းဟာ သူ သိပ်
ချစ်မြတ်နိုးလှတဲ့ မိဖုရားစောလုံကို ကျီစားလိုတဲ့အတွက်
မောင်းမ မိဿံတွေကို တိုးတိုးစေခိုင်းခဲ့တယ် ...

During Bagan period, the king Nara Thiha Patai, let the courtiers to do something to his favourite queen Saw Lon as a teasing.



မောင်းမမိသံတို့လည်း မိဖုရားစောလုံ ကြွလာတဲ့အခါ ရေမွှန်းအောင် ဝိုင်းလောင်းကြတာပေါ့ ...

When the queen Saw Lon came, the female courtiers poured her with water.







လူအများရှေ့မှာ ဣန္ဒြေပျက်လောက်အောင် ရေလောင်းခံလိုက်ရတဲ့ မိဖုရားစောလုံဟာ ရှက်လည်းရှက် ဒေါသလည်းထွက်သွားပြီး အဲဒီလိုလုပ်တာဟာ ဘုရင့်ရဲ့လက်ချက်မှန်း သိသွားတော့ ဘုရင်ကို ရန်ငြိုးထားတော့တယ် ...

When she was splashed with water in front of the audiences, the queen Saw Lon was angry and ashamed of it. When she knew that it was the work of the king, he grudged on him.






ဒီလိုနဲ့ မိဖုရားစောလုံဟာ
ဘုရင်စားမယ့်ပွဲတော်အုပ်
ထဲ အဆိပ်ခတ်တော့တယ်။

So, the queen Saw Lon
put the poison into the
meal for the queen.








ဘုရင်က နိမိတ်
မကောင်းဘူးလို့
ယူဆပြီး ...

The king thought
that it was a bad
omen.






ဘုရင့်ရဲ့ပွဲတော်ကို စားပြီးတာနဲ့ ခွေးဟာ တုံးခနဲ လဲပြီး သေတော့တာပဲ။

As soon as the dog had eaten the king's meal, it fell and died.








ဘုရင်ဟာ ဒေါသဖြစ်ပြီး အဆိပ်ခတ်တာ ဘယ်သူလဲလို့ စုံစမ်းတော့ မိဖုရားစောလုံ အဆိပ်ခတ်မှန်း သိတော့တယ်။

The king was angry and inquired who had done that and he found that his queen Saw Lon had done it.








အဲဒီမှာတင် အချစ်ကြီးသလောက် အမျက်ကြီးတဲ့ နရသီဟပတေ့ ဘုရင်ဟာ သူ သိပ်ချစ်မြတ်နိုးတဲ့ မိဖုရားစောလုံကို သေဒဏ်ပေးပြီး မီးရှို့ကွပ်မျက်စေလိုက်တယ် ...

The king who loved too much and with great anger, he ordered his men to burn his favourite queen alive.

စောလုံကို
သတ်စေ
Execute Saw Lon.




အို ရက်စက်လိုက်တာ
Oh! How cruel is the king.


အေး အဲဒါဟာ ကျီစားသန်လို့ ရန်များရပြီး လူ့အသက် ဆုံးရှုံး ခဲ့ရတာပဲကွဲ့
It's because over-teasing leads to quarrel.


ဒါကြောင့် သင်္ကြန်ပွဲတော်ကြီး မှာ ပျော်လည်းပျော် ရန်လည်း မများစေနဲ့ပေါ့ကွယ်
So, in Thingyan festival, you can enjoy but don't be quarrelsome.






တကယ်တော့ မြန်မာတို့ရဲ့သကြန်ပွဲတော်ဟာ အင်မတန်ချစ်စရာကောင်းပါတယ်၊ နှစ်သစ်ကူး ကာလမှာမေတ္တာရေစင်တွေ ပက်ဖျန်းပြီး
In reality, the Myanmar Thingyan is very lovable one. In the new year splash with water of love.
ကိုယ်စွတ်နလုံး သုံးပါးစလုံး စင်ကြယ်ပါစေဆိုတဲ့ဆန္ဒနဲ့ ရှေးမြန်မာ ဘုရင်တွေလက်ထက်တုန်းက ခေါင်းဆေး မင်္ဂလာ ကျင်းပကြတယ်ကွဲ့.
Keep your physical and mental clean. In ancient times, the kings used to wash their hair.




အဲဒီအစဉ်အလာကို ယူပြီး လူငယ်တွေက လူကြီးသူမတို့ကို သကြန်ကာလမှာ ဦးခေါင်းကို တရော်ကင်ပွန်းတွေနဲ့ ဆေး လျှော်ပေးကြတယ်
With these good tradition, the young persons wash the hair of elderly people.

လက်သည်း ခြေသည်းလှီးဖြတ်
ပေးကြတယ်၊ အမွှေးနံ့သာ
လိမ်းကြံပေးကြတယ်

They trim the finger nails
and toe nails.

ပြီးတော့ ဂါရဝနီဝါတ တရား
တရားကိုရည်မှန်းပြီး သက်ကြီး
ပူဇော်ကန်တော့ပွဲ ကျင်းပ
ကြတယ်ကွဲ့.

With respect they pay
homage to elderly
people.



သင်္ကြန်ဆိုတာ နှစ်ဟောင်းကနေ နှစ်သစ်ကို ရွှေ့လျားကူးပြောင်းတာမို့ အဲဒီလို မတည်မငြိမ် ရွှေ့လျားခြင်းဆိုတဲ့ သင်္ခါရဓမ္မကို ဆင်ခြင်ပြီး လူကြီးတွေဟာ ဥပုသ်သီတင်း ဆောက်တည်ကြတယ်။

Thingyan means transfer from old to new year shifting of old to new, the people reason over it and they keep precept.



လူငယ်တွေကိုလည်း ပဉ္စင်းခံ ရှင်ပြုပေးပြီး အလှူအတန်း ကုသိုလ်ဒါန ပြုကြလေ့ရှိတယ် မြေးတို့ရဲ့...

They observe novitiation ceremony to their sons.



တချို့ကျတော့ အလှူကြီးမပေးဖြစ်တဲ့တိုင် သင်္ကြန်ပွဲတော်ကာလမှာ မုန့်လုံးရေပေါ်တို့ ပေါင်မုန့်အုန်းနို့ဆမ်းတို့ သင်္ကြန်ထမင်းတို့ ကျွေးပြီး စတုဒိသာ အလှူပြုလုပ်ကြတယ်ကွဲ့ ...

Some people give charity with bread and coconut milk to all the people freely.













သံချပ်ကားတွေနဲ့ လှည့်လည်ပြိုင်ပွဲဝင်ပြီး သံချပ်ထိုးတာတွေလည်း ရှိလေရဲ့...

Some say with lyrical jokes on the vehicle and participate in competition.

ဖန်ပြာခွက်နဲ့ ကျောက်စက်ရေ .. အမောပြေအောင် တိုက်ပါ မမ..

With the blue glass cup, drink me to satiate the thirst.






အဲဒီလို ပျော်စရာအင်မတန်စုံလှတဲ့ မဟာသင်္ကြန်ပွဲတော်ကြီးရဲ့ ကျက်သရေကို ယုတ်လျော့စေတာကတော့ ချမ်းတယ် အေးတယ် ပျော်တယ်ဆိုတာကိုအကြောင်းပြပြီး အရက်သေစာ သောက်စားရမ်းကားကြတာပဲကွဲ့ ...

On the wild and ugly side of propitious Thingyan, some drink alcohol and play rudely and roughly.



မိန်းကလေးတွေကလည်း
သရုပ်ပျက်အဝတ်အစား မပေါ်
တပေါ်တွေ ဝတ်ပြီးပျော်ကြ ကကြတာဟာ
ရိုးရာယဉ်ကျေးမှုကို
ဖျက်ဆီးရာရောက်တယ် မြေးတို့ရဲ့
Some of the girls wear scanty dresses and it is the ignominious for the auspicious Thingyan.

ပွင့်လင်းမြင်သာ
ရမယ်ဆို ဟီ
We must open and smooth.

မြန်မာနိုင်ငံမှာ ရောက်ရှိနေတဲ့
နိုင်ငံခြားသားတွေတောင် မြန်မာသကြန်
ပွဲတော်မှာ ဝင်ရောက်နွှဲပျော်နေကြချိန်မှာ
ဘိုးဘိုးတို့လူမျိုးတွေဟာသကြန်အလှကိုမပျက်စေဘဲ
ရိုးရာယဉ်ကျေးမှုကိုထိန်းသိမ်းသင့်တာပေါ့
Even the globe-trotters enjoy our Thingyan festival, we must conserve our traditional culture.




သင်္ကြန်ပွဲတော်ကြီးပြီးလို့ နှစ်ဆန်း(၁)ရက် နေ့ရောက်တဲ့ အခါမှာလည်း သတ္တဝါတွေကို ဘေးမဲ့လွှတ်ပြီး ကုသိုလ်ယူကြတဲ့အပြင်
On the Myanmar New Year day, some people release the animals to the wild or natural habitat. That's the meritorious deed for sparing the other's lives.
ရဟန်းသံဃာတော်တွေ ပင့်ဖိတ်ပြီး ရပ်ရွာတွေထဲမှာ အန္တရာယ်ကင်း ပရိတ်ရွတ်ဖတ်ကြတာဟာ ဘိုးဘိုးတို့ မြန်မာ့ဓလေ့တစ်ခုပဲကွဲ့...
Every corner of the street, the monks are invited and recite paritta to free any danger.
အဲဒီလို ထူးခြားလှတဲ့ သင်္ကြန်ပွဲတော်ကြီးနဲ့အတူ ကံ့ကော်ပန်း ပိတောက်ပန်းရနံ့တွေ သင်းပျံ့နေတဲ့ နှစ်ဦးတန်ခူးလဟာ ပျော်စရာကောင်းလှတဲ့ လတစ်လပါပဲ မြေးတို့ရယ်
That's the joyful Thingyan with the fragrance of seasonal flowers especially Padauk and Gangaw.

# ကဆုန်လ(ညောင်ရေသွန်းပွဲ)

Kason: Festival of pouring holy water to the bodi tree

မြေးတို့ရေ တစ်နှစ်တာမှာ မြန်မာတို့ရဲ့ ဒုတိယလဟာ ကဆုန်လ ပဲကွဲ့၊ ကဆုန်လဟာ အင်္ဂလိပ်လ မေလနဲ့ တိုက်ဆိုင်နေလေရဲ့ ...

My grandchildren, the month of Kason is the second month in Myanmar year. Kason is roughly corresponds with the month of May.

ဘိုးဘိုး ကဆုန်လမှာ ညောင်ရေသွန်းပွဲတော် ကျင်းပတယ်မဟုတ်လား

There is a festival of pouring holy water to the banyan tree, isn't it?

ဟုတ်တာပေါ့ကွဲ့. နေဦး ကဆုန်လရဲ့အကြောင်း အရင်း ပြောပြမယ်

Yes, I'll tell you first about the month of Kason.






ကဆုန်လဟာ ရာသီအားဖြင့် ပြိဿရာသီဖြစ်ပြီး နက္ခတ်ကတော့ ဝိသာခါနက္ခတ်ပဲကွဲ့၊ ရာသီရုပ်ကတော့ နွားလားဥသဘပဲ
Season of Kason is astrologically called Pritha. Its planet is Visakha. It is denoted as the bull.
ရာသီပန်းကတော့ စကားဝါပန်းဖြစ်ပြီး ပွဲတော်ကတော့ညောင်ရေသွန်းပွဲတော်ပဲ မြေးတို့ရဲ့...
The seasonal flower is marked as magnolia, and the festival is the pouring of holy water to the banyan tree.


ဘိုးဘိုးတို့ ဗုဒ္ဓဘာသာဝင်တွေ ဟာ ကဆုန်လကို လမြတ်ကဆုန် လို့ ခေါ်ဝေါ်လေ့ရှိကြတယ်လေ
As we are Buddhist, we mark Kason as holy month.

'ဗျာဒိတ် ဖွားမြင် ဗောဓိပင်
စံဝင်နန်းနိဗ္ဗာန်' ဆိုတဲ့အတိုင်း
ဗုဒ္ဓမြတ်စွာဘုရားနဲ့ ပတ်သက်ပြီး
ထူးမြတ်လှတဲ့နေ့ထူးနေ့မြတ်လေးရက်ဟာ ကဆုန်
လပြည့်နေ့ချည်း ဖြစ်နေတဲ့အတွက် ...

On the fullmoon day of Kason,
Buddha-to-be attained preordainment,
Lord was born, he attained
enlightenment and attained
nirvana.

ကဆုန်လကို
လမြတ်ကဆုန်လို့ ခေါ်ကြခြင်း
ဖြစ်တယ်မြေးတို့ရဲ့

So the month of Kason
is the holy month
for us.

'ဗျာဒိတ်'
ဆိုဟာကတော့ ကဆုန်လပြည့်နေ့မှာ
ဂေါတမမြတ်စွာဘုရားအလောင်းတော် သုမေဓာ
ရှင်ရသေ့ဟာ ဒီပင်္ကရာမြတ်စွာဘုရားထံမှာ
ဗျာဒိတ်တော်ခံယူခြင်းကို ပြောတာကွဲ့.

On the fullmoon day of Kason, Thumaida, the Buddha-to-be attained preordainment from the Dipankra Buddha.





ဤကာလမှ လေးသင်္ချေနဲ့
ကမ္ဘာတစ်သိန်းကာလမှာ
ဘုရားစင်စစ် ကေန်ဖြစ်ပေအံ့

From that day, about four eons and one hundred thousand of earth's life-span, you'll become Buddha.



'ဖွားမြင်'ဆိုတာကတော့
မဟာသက္ကရာဇ် (၆၈)ခုနှစ်
ကဆုန်လပြည့်နေ့မှာ ဘုရား
အလောင်းတော် သိဒ္ဓတ္ထမင်းသား
ဖွားမြင်တာကို ဆိုလိုတာပဲကွဲ့.
In the fullmoonday of Kason, Buddha-to-be the prince Sidarhta was born.




'စံဝင်နန်းနိဗ္ဗာန်'
ဆိုတာက မဟာသက္ကရာဇ်
(၁၄၈)ခုနှစ် ကဆုန်လပြည့်နေ့မှာ
မြတ်စွာဘုရား ပရိနိဗ္ဗာန်စံဝင်တာကို
ဆိုလိုခြင်းဖြစ်တယ်ကွဲ့.
In greater era, 148, on the fullmoon day of Kason, Lord Buddha attained nirvana.




အဲဒီလို ထူးမြတ်လှတဲ့
ဗုဒ္ဓအခါတော်ကဆုန်လပြည့်နေ့
ရှိရာလမို့ လမြတ်ကဆုန်လို့
ခေါ်ဆိုကြခြင်းဖြစ်တယ် မြေးတို့ရဲ့.
So the fullmoon day and month of Kason is well-known as holy month.




ကဆုန်လမှာ ညောင်ရေသွန်းပွဲတော်ဖြစ်ပေါ်လာပုံကတော့ ဒီလိုကွဲ၊ တစ်ချိန်မှာတော့ ဗုဒ္ဓမြတ်စွာဘုရားဟာ ဓာတုစေတီ ဓမ္မစေတီ၊ ဥဒ္ဒိဿစေတီနဲ့ ပရိဘောဂစေတီရယ်လို့ စေတီ (၄)မျိုးရှိတဲ့အနက်
How the festival of pouring holy water is that Lord Buddha prescirbed four kinds of pagodas:-Dhatu, Dhamma, Udissa and Pariboga-respectively.


ဗောဓိညောင်ပင်ကို ပရိဘောဂစေတီအဖြစ် ခွင့်ပြုတော်မူခဲ့တယ်
The Bodhi banyan tree was prescribed as Pariboga pagoda.



ငါဘုရားမရှိတဲ့အခါ ငါဘုရားရဲ့
ကိုယ်စား ဤဗောဓိညောင်ပင်ကို
ပရိဘောဂစေတီအဖြစ် ပူဇော်လှူဒါန်းကြလော့

When I attain nirvana, you must
mark the Bodhi banyan tree
as Pariboga pagoda.







ဘုရားရှင် တည်ပီ ပွင့်တော်မူရာ
မဟာဗောဓိညောင်ပင် အဲဒီလောက် ထူးမြတ်လှတဲ့
ဗောဓိညောင်ပင်တွေ တန်ခူးကဆုန် ခွေ့ခွေ့ခုန်
ဆိုလောက်အောင် ပူပြင်းခြောက်သွေ့လှတဲ့နွေရာသီမှာ
ဆက်လက်ရှင်သန် ခက်လက်ဝေဖြာစေဖို့ ...
Lord Buddha attained enlightenment
under that Bodi tree. So we must
pour the water in the intense heat
of dry season to survive.


ရေသွန်းလောင်းရတာဟာ
ထူးမြတ်လှတဲ့ ကုသိုလ်
အမှုပြုခြင်းပါပဲ..
So pouring the water
to the Bodi tree is a
meritorious deed.






ဒါကြောင့်လည်း
နှစ်စဉ် ကဆုန်လပြည့်နေ့မှာ
မြန်မာပြည်အနှံ့အပြား မြို့ရွာတိုင်းလိုလိုမှာ
ကဆုန်ညောင်ရေသွန်းပွဲတော်ကို
ခြိမ့်ခြိမ့်သဲ ကျင်းပနေကြတာပဲမြေးတို့ရေ
So, in fullmoon day of Kason, all the people throughout the country used to pour water to the Bodi tree as a festival.







# နယုန်လ(စာပြန်ပွဲ)

Examination in recitation of Buddhist scripture in the month of Nayon









နယုန်လဟာ ရာသီအားဖြင့် မေထုန်ရာသီဖြစ်ပြီး နက္ခတ်ကတော့ ဇေဋ္ဌနက္ခတ်ပဲ ဖြစ်တယ်ကွဲ့၊ ရာသီ ရုပ်ကတော့ လုလင်ပျိုနဲ့လုံမပျိုစုံတွဲပဲ

Nayon is astrologically called Maihtuna and season's planet is Zaihta. Its seasonal signified with young couple.

ရာသီပန်းကတော့ စံပယ်ပန်းဖြစ်ပြီး နယုန်လမှာ ကျင်းပလေ့ရှိတဲ့ ပွဲတော်ကတော့ စာပြန်ပွဲပဲ ဖြစ်တယ်မြေးတို့ရဲ့

Season's designated flower is jasmine. The examination in recitation in Buddhist scripture is held in Nayon.

နယုန်လမှာ ပရိယတ္တိသာသနာ
ထွန်းကားစေဖို့အတွက် ပထမပြန်စာမေးပွဲ
တွေကို အင်းဝပြည့်ရှင် သာလွန်မင်းတရားကြီး
လက်ထက် သက္ကရာဇ်(၁၀၀၀)ပြည့်နှစ်မှာ စတင်
ကျင်းပခဲ့ခြင်းဖြစ်တယ်ကွဲ့...

To propagate Pariyatti dispensation,
in 1000, the king Thar Lun of Inwa
held the examination.


နယုန်လမှာ အဲဒီလို ထူးထူးခြားခြား စာပြန်ပွဲ ကျင်းပကြတဲ့အပြင် ...
In Nayon month, beside the pariyatti examination...


နယုန်လပြည့်နေ့ဟာ မဟာ သမယအခါတော်နေ့ဖြစ်တဲ့ အတွက် ထူးခြားလှတယ်မြေးတို့ရဲ့
The fullmoon day of Nayon is Maha Thamaya day also.


မဟာသမယအခါတော်နေ့ ဖြစ်ပေါ်လာပုံက ဒီလိုပါ
How the Maha Thamaya day emerged is ...



ဂေါတမမြတ်စွာဘုရားရှင်ရဲ့ဆွေတော်မျိုးတော် သာကီဝင်တွေဖြစ်ကြတဲ့ ကပိလဝတ်ပြည်နဲ့ ကောလိယပြည်တို့က
မင်းညီမင်းသား ရဲမက်စစ်သည် ပြည်သူတို့ဟာ ရောဟဏီမြစ်ရေကို ခွဲဝေသုံးစွဲရာမှာ အငြင်းပွားကြပြီး ...

The relatives of Gautama Buddha, who were the descendants of Sakiya dynastic clan lived in Kapilvasti and Kauliya, disputed over the use of Rohini river.



နှစ်ဖက်အင်အားတို့ဟာ
စစ်မက်ပြုဖို့ ရောဟဏီမြစ်ကမ်း
တစ်ဖက်စီ ရောက်ရှိလာကြတယ်။

They prepared to wage war
and congregated on
either side of the river.





အဲဒီလို ပဋိပက္ခဖြစ်ပြီး သေကြေကြတော့မယ့်အရေးကို ဘုရားရှင်ဟာ ဉာဏ်စက္ခုနဲ့ သိမြင်တော်မူသွားတဲ့အခါ ...

Lord Buddha knew about this conflict between his relatives by his omnivision.



ရောဟဏီမြစ်ဆီ ရှာန်နဲ့ကြွလာတော်မူပြီး ...

So Lord Buddha came to Rohini river by means of miraculous power.



ရောဟဏီမြစ်ရဲ့ကောင်းကင်ယံမှာ ထက်ဝယ်ဖွဲ့ခွေ စံနေတော်မူရင်း ရန်အမျက်ပြေကာ ငြိမ်းချမ်းရေးရရှိစေဖို့ ဟောကြားတော်မူတယ်ကွဲ့...

Lord Buddha stayed aloft above the Rohini river and preached to cease the war.



အဲဒီလို ဟောကြားရာမှာ အရာ မဟုတ်တာကို ငြင်းခုန်မှုမပြုဖို့ တစ်ဆင့်စကားနဲ့ ငြင်းခုန်ခြင်း မပြုဖို့ ...

Lord Buddha preached not make small case into a big one and don't dispute over the small matter.







အားရှိသူတိုင်း အားနည်းသူကို အောင်နိုင်သည် မဟုတ်ကြောင်းနဲ့ စည်းလုံးမှုမရှိပါက ပျက်စီးတတ်ကြောင်း ကိုယ့်ကိုယ်ကိုယ် ဒုက္ခဖြစ်အောင် မပြုအပ်ကြောင်းတို့ကို ဆိုင်ရာဇာတ်တော်များနဲ့ ဟောကြားတယ်ကွဲ့။

Strong cannot alway win over weak and if there is no unity it will lead to disastrous effect. Buddha preached them with references.



အဲဒီလို ဘုရားရှင်ရဲ့ဟောကြားဆုံးမမှုကြောင့် နှစ်ပြည်ထောင်တို့ ငြိမ်းချမ်းရေးရရှိကာ စစ်မက်မဖြစ်ပွားတော့တဲ့အပြင် ...

Because of the peaceful preaching of Lord Buddha, the two rival armies retreated and peace prevailed.





တစ်ဖက်စီက သာကီဝင်မင်းသား (၂၅၀)စီဟာ ဘုရားရှင်ဆီမှာ ရဟန်းပြုကြတော့တယ်။

250 Sakiya dynastic princes on each side entered into religious order.

အဲဒီနောက် ဘုရားရှင်က အဲဒီရဟန်း (၅၀၀)တို့ သာသနာတော်အတွင်းမှာ စိတ်နှလုံးကြည်စင်ပျော်မွေ့စေဖို့ ဟိမဝန္တာတောအရပ်က ကုဏာလရေအိုင်အနီးဆီ တန်ခိုးတော်နဲ့ ခေါ်ဆောင်သွားတော်မူပြီး ...

Then Lord Buddha accompanied 500 monks to the Kundalar lake in the Himalayan region by means of supernatural power.





ကုဏာလ ငှက်မင်းရဲ့ဇာတ်ကြောင်း ဟောကြားတော်မူရာ တရားဒေသနာတော်ရဲ့အဆုံးမှာ ရဟန်းအားလုံးဟာ သောတာပန် ဖြစ်တော်မူကြတော့တယ် ...

Buddha preached about the king of Kaudala bird and all the monks became ariya of first stage.



နောက်တစ်ခါ မြတ်စွာဘုရားဟာ အဲဒီရဟန်း (၅၀၀)ကို ကပိလဝတ်ပြည်အနီးက မဟာဝုန်တောကြီးဆီ တန်ခိုးတော်နဲ့ ခေါ်ဆောင်သွားတော်မူပြီး ...

Then Lord Buddha brought 500 monks to Mahawun forest near the city of Kapilavasti with miraculous power.

ကမ္မဋ္ဌာန်းတရားပေးကာ အားထုတ်စေရာ အဲဒီရဟန်းအားလုံး ရဟန္တာဖြစ်တော်မူသွားကြတယ်ကွဲ့ ...

When they were asked to meditate all of them attained arhathood.



အဲဒီနောက် ရဟန္တာ (၅၀၀)ဟာ မိမိတို့ရရှိထားတဲ့ တရားထူးတွေကို ဘုရားရှင်ဆီ လျှောက်ထားကြဖို့ နယုန်လပြည့်နေ့ ညချမ်းအခါမှာ စုရုံးရောက်ရှိလာကြရာ ...

Then the 500 monk, with the aim of telling their dispensation they congregated in the night of fullmoon day of Nayon.



အဲဒီ ထူးခြားလှတဲ့ သံဃာအစည်းအဝေးဆီ နတ် ဗြဟ္မာ အသူရာနဲ့ ဂဠုန် နဂါးတို့ စုရုံးရောက်ရှိလာကြတယ် ...

To this distinct conference, Sakka, deva, brahmas, garudas and dragons attended it.






နတ်ဗြဟ္မာတို့ စုရုံးစည်းဝေး ပိချိန်ကို 'မဟာသမယ'လို့ ခေါ်ဆိုပြီး ...
All the arhats and celestial beings congregated and this day was known as "Maha Thamaya"
အဲဒီ 'မဟာသမယ' ကာလမှာ ဘုရားရှင်က မဟာသမယ သုတ်တော်ကို ဟောကြားတော်မူပြီး အဲဒီလို ဟောကြားတဲ့ နယုန်လပြည့်နေ့ ကိုမဟာသမယအခါတော်နေ့လို့ သတ်မှတ် ခဲ့ကြတာပဲ မြေးတို့ရဲ့
On this day, Lord Buddha preached Maha Thamaya Sutta. So the fullmoon day of Nayon was designated as Maha Thamaya day.







# ဝါဆိုလ(ပဉ္စင်းတော်ခံပွဲ)

In Waso, one receives ordination as Buddhist monk

မြေးတို့ရေ မိုးဦးလဖြစ်တဲ့ ဝါဆိုလ
ဟာ နှစ်တစ်နှစ်အတွင်းက မြန်မာ
တို့ရဲ့စတုတ္ထမြောက်လပဲဖြစ်တယ်ကွဲ့.

Grandchildren, the month Waso
is the beginning of monsoon
and it is the fourth month
in Myanmar year.

ဝါဆိုလဟာ အင်္ဂလိပ်လ
ဇူလိုင်လနဲ့တိုက်ဆိုင်မှုရှိတယ်
မြေးတို့ရဲ့

The month of Waso
correspond to English
month July.

ဝါဆိုလဟာ ရာသီအားဖြင့်
ကရကဋ်ရာသီဖြစ်ပြီး နက္ခတ်ကတော့
ပြုဗ္ဗာသာဠ်နက္ခတ် ဖြစ်တယ်ကွဲ့.

Waso is astrologically known
as Karakatt and its planet
is Prubbathana.





ရာသီရုပ်ကတော့
ပုစွန်လုံးဖြစ်ပြီး
ရာသီပန်းကတော့ မြတ်လေးပန်းပဲ
ဖြစ်တယ်၊ ပွဲတော်ကတော့ ပဉ္စင်း
တော်ခံပွဲပဲဖြစ်တယ် မြေးတို့ရဲ့
Its seasonal figure is denoted
with the crab and seasonal
flower is Myat Lay and festival
is receiving the ordination
as Buddha monk.



ဝါဆိုလဟာ
'သန္ဓေ တောထွက်
ဓမ္မစက် တစ်ချက် ပြာဋိဟာ' ဆိုတဲ့
စကားအတိုင်း ဗုဒ္ဓသာသနာတော်
သမိုင်းမှာ ထူးခြားတဲ့နေ့ထူးနေ့မြတ်ကြီး
(၄)ရက်ဟာ ဝါဆိုလပြည့်နေ့ချည်းပဲကွဲ့.
In Waso, it concerns with Buddha's
conceiving, renunciation, wheel
of Dhamma and manifestation
of supernatural power, had
been occured in fullmoon
day of Waso.
ဒါကြောင့်လည်း ဝါဆိုလ
ကို 'လမြတ်ဝါဆို'လို့ အမွှန်း
တင် ခေါ်ဝေါ်ကြတာကွဲ့.
So Waso is glorified as
holy month of Waso.




'သန္ဓေ'ဆိုတာက
မဟာသက္ကရာဇ်(၆၇)ခုနှစ်
ဝါဆိုလပြည့်ကြာသပတေးနေ့
သန်းခေါင်ယံအချိန်မှာ မယ်တော်မာယာဒေဝီ
မိဖုရားကြီးရဲ့ဝမ်းကြာတိုက်မှာ ဘုရားလောင်း
သန္ဓေယူတာကို ဆိုလိုခြင်းဖြစ်တယ်ကွဲ့.
In Maha Era 67, on the fullmoon day of Waso, Thursday, at midnight, the queen Maya Devi conceived a child who was Buddha-to-be.


'တောထွက်'ဆိုတာက
မဟာသက္ကရာဇ်(၉၇)ခုနှစ် ဝါဆိုလပြည့်
တနင်္လာနေ့ ညသန်းခေါင်ယံအချိန်မှာ
ဘုရားလောင်းတောထွက်တော်မူတာကို
ပြောတာကွဲ့.
In Maha Era 97, on Monday, midnight of fullmoon of Waso, the Buddha-to-be renounced royal luxury and took forest retreat.


'ဓမ္မစက်'ဆိုတာကတော့ ဘုရားအဖြစ် ရောက်တော်မူပြီးတဲ့နောက် မဟာသက္ကရာဇ်(၁၀၃) ခုနှစ် ဝါဆိုလပြည့် စနေနေ့ နေဝင်စအချိန်မှာ ပဥ္စဝဂ္ဂီငါးဦးတို့ကို ဓမ္မစကြာ တရားဦး ဟောကြားတာကို ပြောတာပဲ မြေးတို့ရဲ့
In Maha Era 103, on Saturday, in the evening of the fullmoon day of Waso, Buddha preached on wheel of Dhamma to five monks.
'တစ်ချက် ပြာဋိဟာ' ဆိုတာကတော့ မဟာသက္ကရာဇ် (၁၀၉)ခုနှစ် ဝါဆိုလပြည့်နေ့မှာ သာဝတ္ထိ ပြည်က တိတ္ထိဖော်တသင်းကို ဘုရားရှင်က တန်ခိုးပြာဋိဟာပြတော်မူတာကို ရွဲမှတ်ပြီး ခေါ်တာပါကွယ်...
In Maha Era 109, on the fullmoon day of Waso, Lord Buddha manifested supernatural power to the group of heretics.


အဲဒီအချက်တွေကြောင့် လပြည့်ဝါဆိုလို့ခေါ်ဆိုတာဖြစ်ပြီး ဝါဆိုလကစလို့ ရဟန်းသံဃာတွေ ဝါဆိုဝါကပ်ကြတာကတော့ ဒီလိုကွဲ့.
Because of these factors, the month of Waso is known as holy month.




ဘုရားရှင်ပွင့်တော်မူစနေစဉ် လယ်သမားတို့ ထွန်ယက်စိုက်ပျိုးစအချိန် ဝါဆိုလအခါသမယမှာ ရဟန်းသံဃာတော်တွေ ခရီးသွားကြတဲ့အခါမှာ လယ်ကွင်းတို့ကို ဖြတ်သွားရတဲ့အတွက် စပါးသီးနှံပင်တို့ပျက်စီးကြရတယ်၊ ပိုးမွှားသတ္တဝါတွေ သေကြေကြရတယ်...
Under the reign of Lord Buddha, the peasants ploughed their field. When the monk set out a journey they passed over the plantation and were destroyed.




ဒါကြောင့် ဘုရားရှင်ဟာ လူသတ္တဝါတို့ရဲ့အကျိုးစီးပွား မထိခိုက်စေဖို့အတွက်
So the Lord Buddha forbade not to destroy the cause of people.
စိုက်ပျိုးရာသီဖြစ်တဲ့ ဝါတွင်းသုံးလမှာ ရဟန်းတော်တွေ ခရီးသွားခွင့်မရှိဘဲ မိမိတည်မှီရာကျောင်း အရာမ်အတွင်းမှာသာ သီတင်းသုံးနေရမယ်လို့ ပညတ်တော်မူခဲ့တယ် ...
During the period of plantation, the monk were forbidden to go without any allowance.
တကယ်လို့ ရဟန်းသံဃာတော်တွေ ဝါတွင်းကာလမှာ ခရီးထွက်ရင် ပါစိတ်အာပတ်သင့်လိမ့်မယ်လို့ ဆုံးမတော်မူတယ်ကွဲ့.
If the monk set out a journey during the rainy season, they might be condemned.




အဲဒီလို ဝါတွင်းကာလမှာ ရဟန်းသံဃာတော်တွေဟာ ကျောင်းသခ်ိန်းမှာ အစုံအညီရှိတဲ့တွက် ဒါယကာ ဒါယိကာမတို့က သံဃာတော်တွေကို ဝါဆိုသင်္ကန်း ကပ်လှူကြတယ် ပြီးတော့ ...

As the monks were congregate in the monastery, the lay-devotees offer Waso-robe.





ပဉ္စင်းတက်ဖို့ရာ အရွယ်ရောက်ပြီဖြစ်တဲ့ ရှင်သာမဏေတို့ကို ပဉ္စင်းခံပေးကြပြီး ပဉ္စင်းတော်ခံပွဲ ကျင်းပကြတာပဲဖြစ်တယ်ကွဲ့. ...

When the novice are come of age, they receive the ordination as a monk.









အဲဒီဝါတွင်းသုံးလအတွင်းမှာ ထိမ်းမြားမင်္ဂလာပွဲဆင်နွဲမှု မပြုကြဘဲ ရှောင်ရှားလေ့ရှိကြတယ်ကွဲ့.
The marriage is forbidden in the period of lent.


ဘိုးဘိုး ဒါကြောင့် သီတင်းကျွတ်လပြည့်ကျော်မှ မင်္ဂလာတွေဆောင်ကြတာပေါ့နော်
So the wedding ceremonies used to observe after fullmoon day of Thadinkyut.


ဒါပေါ့ မြေးတို့ရဲ့.
Yes, of course.




သမီးကတော့ ဝါဆိုလပြည့်နေ့နဲ့ လပြည့်ကျော် (၁)ရက်နေ့တွေမှာ ဝါဆိုပန်းခူးထွက်ရတာ အပျော်ဆုံးပါပဲ..
I enjoy fullmoon day of Waso and first waning day in which we gather Waso flowers and offer to the pagodas.


ဒီတစ်ခါ မမ ဝါဆိုပန်းခူးထွက်ရင် မောင်လေးလည်း လိုက်မယ်၊ ဝါဆိုပန်းတွေ ခူးပြီး ဘုရားမှာပန်းကပ်ရမယ်၊ ဒါမှကုသိုလ်အများကြီးရမှာနော် မမ
Next time if you gather Waso flower I'll accompany you. I'll collect more flowers and offer them to the pagoda.
အေးပါကွယ် အေးပါ
Yes.



# ဝါခေါင်လ(စာရေးတံပွဲ)

## The Lucky Draw for the monks in Wagaung









အဲ ရာသီအရုပ်ကတော့ ခြင်္သေ့ဖြစ်ပြီး
Seasonally designated figure is lion.


ရာသီပန်းက ခတ္တာပန်းပါပဲ ပွဲတော်ကတော့ စာရေးတံပွဲပဲပေါ့
The sesonal flower is land lily and the festival is the lots in religious offering.


ဝါခေါင်လမှာ စာရေးတံပွဲ ကျင်းပရတဲ့အကြောင်းက တော့ ဒီလို မြေးတို့ရဲ့
Why the lots in religious offering is like that.



ဝါခေါင်လဟာ မိုးရာသီရဲ့မိုးလယ်လဖြစ်ပြီး 'ဝါဆိုဝါခေါင် ရေဖောင်ဖောင်'ဆိုတဲ့ စကားအတိုင်း မိုးများ လှတဲ့အပြင် ဆန်စပါးကလည်း စိုက်ပျိုးထားဆဲဆိုတော့ အစားအစာ ရှားပါးတဲ့လပဲပေါ့..

The month of Wagaung is the middle of rainy season. There is a saying that "July, Aughust, rain and flood". As the paddy is still growing, the food is relatively scarce.



ဘုရားရှင်လက်ထက်တော်အခါက ဝါခေါင်လမှာ ရဟန်းတော်တွေဟာ ဝေရဥ္စာမြို့ထဲ ဆွမ်းခံဝင်ကြတဲ့အခါ ဆွမ်းမရကြလေတော့ အခက်ကြုံကြရတယ် ...

During the reign of Lord Buddha, when the monk entered in Weirinsar, they could not get enough alms.







သံဃာတော်တွေ အဲဒီလို
ဆွမ်းအခက်အခဲကြုံရတဲ့အတွက် ဒကာ
ဒကာမတို့က သကာလဘတ္တလို့ခေါ်တဲ့
စာရေးတံ
ဆွမ်းအလှူ လှူဒါန်းကြရတော့တယ်
When the monks face difficulty in
getting the alms, the lay-devotees
offered the meal by
means of lots.


စာရေးတံ အလှူဆိုတာ
ရဟန်းသံဃာတွေကို ကံစမ်း
မဲနှိုက်ပြီး
That is the some kinds of
lucky draw for the monks to
be offered.


မဲကျတဲ့သံဃာတော်ကို
ဆွမ်းခဲဖွယ် လှူဖွယ်ပစ္စည်း
တွေ လှူဒါန်းကြရတယ်
The devotees offer meal
to the monk who win the
lucky draw.




အိမ်ရောက်ရင်
သံဃာတော်တွေကို
ဆွမ်းခဲဖွယ် လှူဖွယ်
ပစ္စည်းတွေ လှူဒါန်းကြရတယ်ကွဲ့.
At home, the lay-devotees
serve the meal and offer
offertories
to the monk.


အဲဒီလို ဘုရားရှင်လက်ထက်တော်
ကာတည်းက ဝါခေါင်လမှာ ပြုလုပ်ခဲ့တဲ့
စာရေးတံပွဲကို ဗုဒ္ဓဘာသာဝင်တွေဟာ
ဒီနေ့ကာလအထိ အမြတ်တနိုး ဒါန
အလှူပွဲအဖြစ် ကျင်းပလေ့ရှိကြတယ်လေ
In the reign of Lord Buddha,
this lucky draw method was used
and until now all the Buddhist
observe this method.


ဝါခေါင်လပြည့်နေ့ကို
'မေတ္တာအခါတော်နေ့'လို့လည်း
ခေါ်ဝေါ်ကြတယ်ကွဲ့၊ မေတ္တာအခါတော်နေ့
ဖြစ်ပေါ်လာပုံကတော့ ဒီလိုကွဲ့.
The fullmoon day of Wagaung is also
known as "Metta Day". It emerged
like that.



တစ်ချိန်မှာ ဗုဒ္ဓမြတ်ဘုရားဟာ ရဟန်းငါးရာကို ကမ္မဋ္ဌာန်းတရား ဟောကြားပေးလိုက်တဲ့အခါ..
At one time when Lord Buddha preached his 500 monks the dispensation on meditation...





အဲဒီရဟန်းငါးရာဟာ ရုက္ခစိုးနတ်တို့ရှိရာ တောအုပ်ထဲက သစ်ပင်တွေအောက်မှာ ကမ္မဋ္ဌာန်းတရား စီးဖြန်းကြလေတယ် ...
These 500 monks recited the mantra in meditation under the trees which were occupied by guardian spirits of tree.




ရဟန်းတို့ရဲ့ သီလတန်ခိုးကြောင့် ရုက္ခစိုးနတ်တို့ဟာ သစ်ပင်တွေပေါ်မှာ မနေဝံ့ကြဘဲ ဆင်းပြေးကြရတော့တယ် ...
Because of the power of the monks' concentration on meditation, the guardian spirits of the tree dared not stay on the tree.






အဲဒီမှာတင် ရုက္ခစိုးနတ်တွေဟာ ကြောက်စရာကောင်းတဲ့ အသွင်သဏ္ဌာန်အမျိုးမျိုးနဲ့ ခြောက်လှန့်တော့တယ်။
The guardian spirit of the tree transformed thremselves into terrible forms and threatened the monks.






ကြာတော့ ရဟန်းတော်တွေဟာ စိတ်အနှောင့်အယှက်ကြီးစွာ ဖြစ်ရပြီး အဲဒီတောထဲက ထွက်လာကြရတော့တယ်။

Later, because of these disturbances, the monks got out of the forest.



ရဟန်းတော်တွေဟာ ဖြစ်ပျက်ပုံအကြောင်းစုံ ဘုရားရှင်ကို လျှောက်ထားကြတဲ့အခါ မြတ်စွာဘုရားက ရဟန်းတော်တွေကို 'မေတ္တာသုတ်' သင်ကြားပေးတော်မူလိုက်တယ်။

When the monks retold about their encounter to Lord Buddha, he taught the "Metta Sutta" to the monks.






'မေတ္တာသုတ်' ရွတ်ဖတ်ကြတဲ့အခါ ရုက္ခစိုးနတ်တွေဟာ သဘောကျနှစ်ခြိုက်သွားကြတော့တယ် ...

When they recited "Metta Sutta", the guardian spirits of the tree were delighted.



အဲဒီမှာတင် ရုက္ခစိုးနတ်တွေဟာ ရဟန်းတော်တို့ကို မနှောင့်ယှက်တော့ဘဲ တံမြက်လှည်း သန့်ရှင်းပေးတာတွေ သောက်ရေ သုံးရေ ဖြည့်ပေးတာတွေ လုပ်ကိုင်ပေးပြီး စောင့်ရှောက်ကြတော့တယ် ...

Since then, the guardian spirit of the tree did not disturb the monks and they transformed into men and they cleaned the surrounding, swept the compound and filled the water.






အဲဒီလို ဘုရားရှင်က မေတ္တာသုတ်ပရိတ်တော်ဟောကြားတော်မူခဲ့တဲ့ ဝါခေါင်လပြည့်နေ့ကို 'မေတ္တာအခါတော်နေ့' လို့ ခေါ်တွင်ကြတာပဲ မြေးတို့ရဲ့

So the fullmoon day of Wagaung is also called as Metta Day.



# တော်သလင်းလ(လှေပြိုင်ပွဲ)

## Boat-race is held in Tawthalin

မြေးတို့ရေ တော်သလင်းလဟာ
နှစ်တစ်နှစ်ရဲ့ မြန်မာလတွေထဲက
ဆဋ္ဌမမြောက်လဖြစ်ပြီး အင်္ဂလိပ်လ
စက်တင်ဘာနဲ့တိုက်ဆိုင်နေတယ်ကွဲ့.

Grandchildren, the month of Tawthalin
is the sixth month in Myanmar year.
It corresponds to English month
September.




တော်သလင်းလဟာ ရာသီကတော့ ကန်ရာသီဖြစ်ပြီး နက္ခတ်က ပြုဗ္ဗာဘဒြပိုဒ် နက္ခတ်ပဲဖြစ်တယ်၊ ရာသီအရုပ်က ကညာအပျိုစင်ဖြစ်ပြီး ...
The month of Tawthalin is astrologically known as Kanna season and its planetary denotation is Prubbadrabeik, and it symbolize with the young woman.


ရာသီပန်းက ရင်းမာ ပွဲတော်ကတော့ လှေပြိုင်ပွဲပဲဖြစ်တယ်မြေးတို့ရဲ့
Its seasonal flower is Yin Mar and its festival is boat rowing competition.




တော်သလင်းလမှာ လှိုင်းလေ
အထိုက်အလျောက်ကင်းစင်လေ့ရှိတဲ့
အတွက် 'တော်သလင်း မြစ်တွင်း
သင်ဖြူးခင်း'လို့ ဆိုရိုးရှိပြီး..
During the month of Tawthalin,
there is little wave in the river
and only a breeze blowing.
So the surface of river is
calm as if the mat is
spread.


ရှေးမြန်မာဘုရင်တွေ
လက်ထက်ကစလို့ လှေပြိုင်ပွဲ
တွေ ပြုလုပ်ခဲ့ကြတယ်ကွဲ့.
The ancient king observed
the boat-race festival




အဲဒီ လှေသဘင်ပွဲတော်ကို ဘုရင်နဲ့မိဖုရားတို့ကိုယ်တော်တိုင် ရှုစားအားပေးခဲ့ကြတယ် မြေးတို့ရဲ့ ...
This boat-race was watched and enjoyed by the king and queens.






ရှေးခေတ်တုန်းက လှေ
သဘင်ပွဲတော်အပြင် သစ်ဆင်း
ပွဲကိုလည်း ကျင်းပလေ့ရှိ
ကြတယ်ကွဲ့...
Moreover, besides the
boat-race, there were drifting
down the rafts of log.
ဧရာဝတီမြစ်ရေဟာ တော်သလင်း
လမှာ ရေစီးဆင်းမှု အရှိန်အဟုန်
မပြင်းထန်ဘဲ ညင်ညင်သာသာ
စီးဆင်းနေချိန်မှာ ...
During the month of Tawthalin,
the water of Ayeyawdi flow
smothly and steadily.



သစ်ဖောင် ဝါးဖောင်တို့ကို လှလှပပ ညီညီညာညာ စီးဆင်းစေတာကို သစ်ဆင်းပွဲ ဆင်နွှဲတယ်လို့ ခေါ်ဆိုခဲ့ကြတယ် မြေးတို့ရဲ့ ...

The logs are tied tightly in the form of rafts and drift down and it is known as Thit Sinn-festival.













# သီတင်းကျွတ်လ(မီးထွန်းပွဲ)

## The Festival of light in Thadinkyut









ဘိုးဘိုး သီတင်းကျွတ်လမှာ ဘာဖြစ်လို့ ဆီမီးထွန်းကြတာလဲဟင်
Grandpa, why does the festival of light observed in Thadinkyut?


အေး ပြောပြပါ့မယ်ကွယ် ဝါတွင်းသုံးလအကြောင်း မြေးတို့ကို ပြောပြပြီးပြီနော်
I've told you about three months of sojourn in retreat.


ဟုတ်ကဲ့ ဘိုးဘိုး
Yes, grandpa.
ဝါတွင်းသုံးလ ဆိုတာ ဝါဆိုလပြည့်နေ့ကနေ သီတင်းကျွတ်လပြည့်နေ့အထိပဲကွဲ့.
The three months of retreat is starting from fullmoon day of Waso to the fullmoon day of Thadinkyut.

မြတ်စွာဘုရားဟာ ဝါဆိုလပြည့်နေ့ ညနေပိုင်းမှာပဲ တာဝတိံသာနတ်ပြည်ဆီ ကြွမြန်းသွားတော်မူပြီး
သတ္တမဝါကပ်တော်မူတယ် မြေးတို့ရဲ့ ...

Lord Buddha ascent to Tavatimsa where devas live in the evening of fullmoon day of Waso, he spent there as the seventh year of Buddhahood.

မြတ်စွာဘုရားဟာ သန္တုသိတ မည်တဲ့ မယ်တော်
မိနတ်သား အမှူးပြုလို့ စကြဝဠာတိုက်တစ်သောင်းက
နတ် ဗြဟ္မာ ပရိသတ်တို့ကို ဝါတွင်းသုံးလပတ်လုံး
အဘိဓမ္မာတရားတော် ဟောကြားတော်မူတယ်ကွဲ့...

Refering to the deva Thantu Thita was his mother in former life and Lord Buddha preached Buddhist philosophy to celestial beings.




ဗုဒ္ဓရဲ့အဘိဓမ္မာတရားတော်ဟာ
သီတင်းကျွတ်လပြည့်
နေ့မှာ ပြီးဆုံးသွားတော့တယ်၊ ဒါကြောင့်လည်း
သီတင်းကျွတ်လပြည့်နေ့ကို အဘိဓမ္မာအခါတော်
နေ့လို့ ခေါ်ကြတာပေါ့၊ အဲဒီလို မယ်တော်မိနတ်သား
ကို ကျေးဇူးဆပ်ချင်လို့ အဘိဓမ္မာတရားတော်
ဟောကြားပြီးတဲ့နောက် ...
Lord Buddha's preaching on Buddhist philosophy concluded on the fullmoon day of Thadinkyut. So the fullmoon day of Thadinkyut is also known as Abidhamma day. That was the Buddha's pay back of gratitude of his mother.




ဘုရားရှင်ဟာ သိကြားမင်း
ဖန်ဆင်းထားတဲ့စောင်းတန်းသုံးသွယ်
အနက်အလယ်စောင်းတန်းဖြစ်တဲ့ ပတ္တမြား
စောင်းတန်းအတိုင်း လူပြည်ဆီပြန်လည်
သက်ဆင်းတော်မူလာတယ်ကွဲ့.
Lord Buddha descent down from one of the three stairs at the middle stair made of ruby created by sakka.

နတ်အပေါင်းတို့က လက်ယာဘက် ရွှေစောင်းတန်း ဗြဟ္မာတွေက လက်ဝဲဘက် ငွေစောင်းတန်းတို့ကနေ ဘုရားရှင်ကို ခြံရံဆင်းသက်လာကြတယ် ...

Devas, brahmas and other celestial beings descent down on either side of Lord Buddha using gold stair and silver stair.



ပဉ္စသီခ်နတ်သားက ဗေဠုဝနတ်စောင်းကြီး တီးလို့ မာတလိနတ်သားက နတ်ပန်းခိုင်တို့ကို ကိုင်စွဲလို့ သုယာမနတ်မင်းက စာမရီသားမြီးယပ်ကိုခတ်လို့ သန္တုသိတနတ်မင်းက ပတ္တမြားယပ်ကိုခတ်လို့

The deva Pansa Theinkha played veluva harp, deva Martali holding the branch of deva flowers, Thuyama holding the yak-tail swatter Thantu Thita holding the fan studded with rubies.



သိကြားမင်းက ဝိဇယုတ္တ ခရုသင်းကိုမှုတ်လို့ သဟမ္ပတိဗြဟ္မာကြီးက ဗြဟ္မာထီးဖြူကြီး ဆောင်းမိုး ပူဇော်လို့ သင်္ကဿ မြို့တံခါးဆီ ဦးတည်ဆင်းသက်လိုက်ပို့ကြတဲ့အခါ ...

The Sakka, king of devas blew the couch-shell, the brahma Thahampati holding the white umbrella descent to Sankassa Nagara.





ဘုရားရှင် လူ့ပြည်ကို ရောက်ရှိ တော်မူတယ်ဆိုရင်ပဲ ရှင်သာရိ ပုတ္တရာ မထေရ်မြတ်ကြီးဟာ စောင်းတန်းဦးကနေ ရှိခိုးပူဇော် ကြိုဆိုသလို ပရိသတ်အပေါင်း ကလည်း သောင်းသောင်းဖြဖြ ရှိသေစွာ ကြိုဆိုကြတယ် ...

When Lord Buddha arrived back to the realm of human, Shin Thari Putra welcomed with the gesture of paying homage along with the throng of people.


အဲဒီလို ဘုရားရှင်ကို
ဆီးကြိုပူဇော်တဲ့အနေနဲ့ ဆီမီးရောင်စုံတွေ
ထွန်းညှိပူဇော်ကြရာက သီတင်းကျွတ်
မီးထွန်းပွဲတော်ဆိုတာ ဖြစ်ပေါ်လာတာပဲ
မြေးတို့ရဲ့.
The welcoming light for the Buddha's return reflects up to today and become the light festival of Thadinkyut.


ဘုရားရှင်ဟာ
တာဝတိံသာကနေ
ကြွချီလာတာမို့ တာဝတိံသာ
ပွဲလို့ ခေါ်ဆိုကြသလို
As Lord Buddha descent from Tavatimsa, it is also known as Tavatimsa festival.


တာဝတိံသာနတ်ပြည်ရှိရာ
မြင်းမိုရ်တောင်ထိပ်ကနေ ဆင်းသက်
တော်မူလာတာကို အကြောင်းပြုပြီး
မီးမြင်းမိုရ်ပွဲလို့လည်းခေါ်ဆိုကြတယ်ကွဲ့. ...
As Tavatimsa was situated at the top of Myin Mo moutain. So this festival is also known as light from Myin Mo.


သီတင်းကျွတ်လပြည့်နေ့မှာ
ရှင်သာရိပုတ္တရာမထေရ်က
ဘုရားရှင်ကို လူ့ပြည်ကနေ ဆီးကြို
ဂါရဝပြုရှိခိုးတာကို အတုယူပြီး
Just like Shin Thari Putra
welcomed Lord Buddha from
the realm of human.


သီတင်းကျွတ်ပွဲတော်ကာလမှာ
လူငယ်လူလတ်တွေဟာ မိဘဘိုးဘွား
အကြီးအမှူးတို့ကို ကန်တော့တဲ့ဓလေ့
ဖြစ်ပေါ်လာတာပဲကွဲ့.
The young people used to
pay homage to elderly people
with offertories as obeissance
as a permanent tradition.



နောက် သီတင်းကျွတ်လပြည့်နေ့မှာပဲ
ရဟန်းတော်အချင်းချင်း ဖိတ်ကြား
တိုက်တွန်းကြတဲ့ ပဝါရဏာပွဲ
ကျင်းပကြတယ်ကွဲ့.

On the fullmoon day of Thadinkyut, there is a traditional Pawarana. This is monk is invited by other monk.

တပည့်တော်
သံဃာကိုဖိတ်ကြားပါတယ်၊
တပည့်တော်ရဲ့အပြစ်ကိုမြင်ရင် ကြားရင်
သံသယရှိရင် တပည့်တော်ကို သနားသော
အားဖြင့်ပြောဆိုသတိပေးကြပါ၊ အပြစ်ကိုရှုလို့
ကုစားပါ့မယ်

Please forgive if I've done something mishap on you. If there is any, I'll mend my habit.

အဲဒီလို သံဃာတော်အချင်းချင်း
အပြစ်မမြင် ပြောဆိုဝေဖန်ပြီး အပြစ်
ကင်းအောင်ဆောင်ရွက်တာကို
ပဝါရဏာပြုတယ်လို့ခေါ်တယ်ကွဲ့.

To forgive one another among the monks is called Pawarana.


ဪ် ဒါတွေကြောင့် သီတင်းကျွတ်လမှာ မီးထွန်းပွဲတော် ကျင်းပကြတာကိုး
So the light festival is held in Thadinkyut.


သားတို့တော့ မီးထွန်းပွဲတော် လိုက်ကြည့်ပြီး ဘိုးဘိုးတို့ ဖေဖေ မေမေတို့ကို လိုက်ကန်တော့ရတာ သိပ်ပျော်တာပဲ
We enjoy looking the variety of light display and pay homage to our parents.



မြင့်မိုရ်မေမေစာပေ



# တန်ဆောင်မုန်းလ(ကထိန်ပွဲ)

## Festival of Kahtein in Tazaungmon












တန်ဆောင်တိုင်မီးထွန်းပွဲတော်ကတော့ တာဝတိံသာနတ်ပြည်မှာရှိတဲ့ ဘုရားလောင်းရဲ့ ဆံတော်တွေကို ဌာပနာပြီး သိကြားမင်းတည်ထားရာ စူဠာမဏိစေတီတော်ကို ရည်စူးပူဇော်တဲ့အနေနဲ့ မီးပုံပျံတွေလွှတ်ကြ၊ ဆီမီးတွေပူဇော်ကြတာပဲကွဲ့.
The ligh festival in Tazaungmon is dedicated to the Sulamuni pagoda which was built in Tavatimsa and enshrined with Buddha's hair. The people used to hot-balloning into the sky to offer light to this pagoda.




အခုခေတ်မှာတော့ မီးထွန်း ပွဲတော်နဲ့အတူ တေးသရုပ်ဖော်ကပွဲတို့ တေးဂီတဖျော်ဖြေပွဲတို့ပါ ပျော်ပျော်ကြီး ကျင်းပကြတယ်လေ
At present the stage-shows are performing along with the light festival.








တစ်ခါမှာတော့ ဘဒ္ဒဝဂ္ဂီ ရဟန်းညီနောင် သုံးကျိပ်ဟာ ဘုရားရှင်ကို ဖူးမြော်ဖို့ ပါဝေယျမြို့ကနေ သာဝတ္ထိပြည်ဆီ ဦးတည်လို့ ခရီးထွက်ခဲ့ကြရာက ...

Once the thirty brothers monk Bhadda Waggi, set out a journey from their Parwaiya to Sravasti to pay homage to Lord Buddha.





လမ်းခရီး သာကေတမြို့မှာ ဝါကပ်ကြရပြီး ဝါကျွတ်တဲ့ သီတင်းကျွတ်လပြည့်ရောက်တဲ့အခါ ပဝါရဏာပြုကြရတယ်...

On the way they took sojourn in Thakaita. When on fullmoon day of Thadinkyut they acted Pawarana forgiving one another.

အဲဒီနောက် သာဝတ္ထိပြည်ဆီ ခရီးဆက်ရာမှာ မိုးသဲသဲမဲမဲ ရွာတာနဲ့ကြုံရလို့ တစ်ကိုယ်လုံး မိုးရေတွေ နွံ့ဗွက်တွေနဲ့ စိုရွှဲပေကျံကုန်တော့တယ်...

Then, while there was heavy rain and their bodies were soaked with water.



ဘုရားရှင်ဟာ အဲဒီရဟန်းတို့နဲ့ ပင်ပန်းဆင်းရဲလှတဲ့အဖြစ်ကို မြင်တွေ့တော်မူတဲ့အခါ ကရုဏာဖြစ်တော်မူပြီး ကထိန်အလှူကို ခွင့်ပြုတော်မူလိုက်တယ် ...

When Lord Buddha saw their wrecked and torn-out robes, he allowed them to accept Kathina robe.




ကထိန်အလှူကို သီတင်းကျွတ်လပြည့်ကျော် (၁)ရက်နေ့ကနေ တန်ဆောင်မုန်းလပြည့်နေ့အထိပဲ ပြုလုပ်ခွင့် ကထိန်ခင်းခွင့်ပေးထားတော်မူခဲ့တယ် ...
The Kathina-robe offering ceremy can be observe from the first waning of Thadinkyut to the fullmoon day of Tazaungmon.


အဲဒီလို ကထိန်ခင်းရာမှာ အလှူရှင်အများ စုပေါင်းလှူရတဲ့ဘုံကထိန်အလှူပွဲတွေပိုများလာတယ်ကွဲ့.
The Kathina-robe offering ceremony is mostly offered with the fund of donors.








ကထိန်သင်္ကန်း ကပ်လှူရာမှာ
တန်ဆောင်မုန်းလဆန်း (၁၄)ရက်ညမှာ
အပြီးရက်လုပ်ပြီး တန်ဆောင်မုန်းလပြည့်နေ့ မနက်
အရုဏ်တက်ချိန်မှာ ဘုရားကိုဆက်ကပ်ရတဲ့မသိုးသင်္ကန်း
အလှူဆိုတာလည်းရှိတယ်ကွဲ့...
There is overnight Kathine-robe weaving
competition. At the night of 14th Tazaungmon
started to weave to stitch and at down it
is offered to monk or Buddha
image.




ရွှေတိဂုံစေတီရဲ့ရင်ပြင်တော်ပေါ်မှာ
နှစ်စဉ်ကျင်းပတဲ့ မသိုးသင်္ကန်းရက်
ပြိုင်ပွဲကတော့ အထင်ရှား
အစည်ကားဆုံးပါပဲ
The most famous overnight
Kathina-robe weaving
competition is held every
year in Shwe Dagon
pagoda.




တန်ဆောင်မုန်းလပြည့်နေ့မှာ
မြတ်စွာဘုရားဟာ
အဇာတသတ်မင်းကို သမညဖလသုတ္တန်တရား
ကို ဟောကြားတော်မူခဲ့တဲ့အတွက် သာမညဖ
အခါတော်နေ့ရယ်လို့ သတ်မှတ်ကြတာကွဲ့.
On the fullmoon day of Tazaungmon, Lord Buddha preached Thamanya Phala Sutta to king Azartathatt. So some recognize this day as Thamanya Phala day.


တန်ဆောင်မုန်းလပြည့်နေ့ညမှာ
မယ်ဇလီဖူးကိုခူးပြီး သုတ်စားရင်
ဘေးကင်းတယ် ရောဂါကင်းတယ်ဆိုပြီး
At the night of the fullmoon day of Tazaungmon, mostly recognize that eating Mezali leaves and bud is harmless from disease.


တန်ဆောင်မုန်းလပြည့်နေ့ည
မှာမှ မယ်ဇလီဖူးသုတ်စား
သူတို့ အများအပြား ရှိကြ
တယ်ကွဲ့.
So most of the people eat the pickled Mezali leaves and bud.




တန်ဆောင်မုန်းလပြည့်ကျော် (၁)ရက်ညမှာတော့ လူငယ်ကာလသားတွေက ကျီးမနိုးပွဲကျင်းပပြီး
On the night of first waning day of Tazaungmon, the young men secretly observe Kyimanoe.


သူတစ်ပါးခြံဝင်းခြံပြင်က ပစ္စည်းတွေကို ဟိုရွှေ့ဒီပြောင်း
They move and displace others' properties.


အပျော်တမ်းပြုလုပ်ကြတဲ့ ခလေ့လည်း ရှိတယ် မြေးတို့ရဲ့
They do it simply for mocking and joking.



# နတ်တော်လ(စာဆိုတော်ပွဲ)

## In Nadaw, the literati day is observed















ရှေးမြန်မာဘုရင်တွေလက်ထက်တုန်းက နတ်တော်လမှာ နတ်ပွဲသဘင်တွေ ဆင်ဖမ်းပွဲတွေကျင်းပလေ့ရှိကြပြီး နတ်ပွဲသဘင်တွေကျင်းပတာကိုအကြောင်းပြုလို့ နတ်တော်လလို့ အမည်တွင်ခဲ့ရတာပါပဲ
In ancient Myanmar King, they celebrate elephant herding ceremony in the month of Nadaw. Moreover they observed Nat Pwe. From that Nadaw is derived.
အင်းဝနန်းတည် ဘိုးတော်မင်းတရားလက်ထက်ကစပြီး နတ်ပူဇော်ပွဲကျင်းပရာကနေပြောင်းပြီး မြန်မာပညာရှိကြီးတွေကို ချီးမြှောက်ခဲ့တယ်ကွဲ့.
The king Bo Daw who established Inwa dynasty, praise the wise men and composers.






(၁၉၄၂-၁၉၄၃) ဂျပန်အုပ်ချုပ်ရေးကာလမှာပဲ မြန်မာနိုင်ငံ စာရေးဆရာအသင်းဖွဲ့စည်းပြီး နတ်တော်လဆန်း (၁)ရက်နေ့ကို စာဆိုတော်နေ့အဖြစ် သတ်မှတ်ခဲ့တယ် ...
During the Japanese occupation between 1942-43, the Myanmar writer's Association recognized 1st waxing day of Nadaw as the literati day.


အဲဒီအချိန်က အစပြုပြီး နတ်တော်လမှာ..
Since the month of Nadaw is...


သက်ကြီးစာပေပညာရှင်ကြီးတွေကို ကန်တော့ပွဲကျင်းပလာကြတယ် ...
Paying homage to old literati is started.




အမြို့မြို့အနယ်နယ်မှာ စာပေဟောပြောပွဲတွေ ကျင်းပလာကြရာက နတ်တော်လဟာ စာဆိုတော်ပွဲကျင်းပရာလ ဖြစ်လာခဲ့တာပါပဲကွယ်
Throughout the small and big towns, the delivering lecture on literature are held. In this way Nadaw is the month of praising and propagating the literature.


နှင်းမှုန်ဖွေးဖွေး ဆောင်းလေအေးအေး သဇင်ပန်းရနံ့မွှေးမွှေးမှာ တစ်နိုင်ငံလုံး စာပေရနံ့သင်းတာကတော့ နတ်တော်လပဲဖြစ်တယ် မြေးတို့ရေ
In the cold winter breeze and hazy atmosphere, the orchids are blooming and also the literature is blooming.







# ပြာသိုလ(မြင်းခင်းပွဲ)

In the month of Pyatho, the display of prowess in horsemanship is observed












ပြာသိုလဟာ
ဆောင်းလယ်ကာလဖြစ်ပြီး ချမ်းအေးလှတဲ့
အတွက် ကိုယ်လက်လှုပ်ရှားဖို့လိုတယ်ကွဲ၊ ဒါကြောင့်
ပြာသိုလမှာမြင်းခင်းသဘင်ပွဲဆင်နွှဲကျင်းပတာဟာ
သင့်လျော်တယ်လို့ ဆိုရမယ်ကွဲ.

Pyatho is in mid-winter. So it is too cold and need some action. So it is suitable to observe display of prowess in horsemanship.


မြင့်မိုရ်မမေစာပေ

ရှေးမြန်မာဘုရင်တွေလက်ထက်တုန်းက မြင်းစီးသူရဲကောင်းတို့ရဲ့ ဓားရေး လှံရေး ဆင်ရေး မြင်းရေး အတွက် ပြသရာ မြင်းခင်းသဘင်ပွဲကို ဘုရင်နဲ့မိဖုရားတို့ကိုယ်တိုင် လာရောက်ရှုစားလေ့ရှိတယ်ကွဲ့...

In the reign of ancient kings heroes of cavalry, and elephant troops showed their prowess in fighting. All the citizens came flocking to this arena.





တစ်ခါတစ်ရံမှာ မြင်းခင်းပွဲနဲ့အတူ ဆင်တိုက်ပွဲတွေလည်း ကျင်းပလေ့ရှိကြတယ်ကွယ့် ...

Along with horsemanship, there include fighting from elephant-back.










# တပို့တွဲလ(ထမနဲပွဲ)

In Tapodwe, the gutinous rice competition observes










တပို့တွဲလဟာ အင်မတန် အေးမြတဲ့ရာသီဖြစ်တဲ့အတွက် မီးပုံပြုလုပ် မီးလှုံလေ့ရှိရာက
In the month of Tabodwe, it's so cold that the people build a fire and warm themselve.


နံ့သာတုံးတွေတောထဲမှာ ရှာဖွေ ခုတ်ယူလာပြီး အဲဒီနံ့သာထင်း တွေနဲ့ မီးပုံပြုလုပ်ကြတာကို
Some people cut the frogrant woods and burn them as fire-warming festival.


မီးဖုန်းသဘင်ပွဲ ကျင်းပတယ်လို့ ရှေးအခါက ပြောလေ့ရှိကြတယ်ကွဲ့.
So in the olden day, it was known as fire warming festival.






ထမနဲထိုးပြီးတဲ့အခါ
ဘုရားရှင်နဲ့သံဃာတော်
တွေကို ကပ်လှူကြသလို
After they have worked the
glutinous rice, they used
to offer to the Buddha
image and monks.

ရပ်ထဲရွာထဲက လူတွေကို ထမနဲထုပ်တွေဝေပြီး အလှူဒါနပြုလေ့ရှိကြတယ်ကွဲ၊ အဲဒါ ချစ်စရာကောင်းတဲ့ မြန်မာ့ဓလေ့ပဲပေါ့ကွယ် ...
The packages of glutinous rice are shared to neighbours freely and genuinely. That's the lovely Myanmar tradition.










# တပေါင်းလ(သဲပုံစေတီပွဲ)

## In Tabaung, sand-pagoda festival is observed










ရာသီရုပ်ကတော့ ဖင်နဲ့ခေါင်း ခေါင်းနဲ့ဖင် ဆက်နေတဲ့ငါး နှစ်ကောင်ပဲဖြစ်တယ်ကွဲ့.
Its figure is the two fish joining head and tail.




ရာသီပန်းက သရဖီပန်း ဖြစ်ပြီး ပွဲတော်ကတော့ သဲပုံစေတီပွဲပဲဖြစ်တယ်ကွဲ့.
Its seasonal flower is Tharaphi and the festival is sand-pagoda festival.


တပေါင်းလဟာ ဆောင်းရာသီနှောင်းပိုင်းကာလမို့ နေ့ဘက်မှာပူပြီးညဘက်မှာ အင်မတန် ချမ်းတယ်ကွဲ့.
As Tabaung is the late winter and beginning of the summer time. So it is hot in day time and cold at night time.

ဒါကြောင့်လည်း
'နေပူလို့ ညချမ်း တပေါင်းလ
သရမ်း'လို့ ဆိုစကားရှိ
တာပေါ့ကွဲ့.

So it is the month of
irregular and hot in day,
cold at night.

တပေါင်းလမှာ သဲပုံစေတီပွဲ
ကျင်းပတဲ့ ဓလေ့ဖြစ်ပေါ်လာ
ပုံကတော့ ဒီလိုမြေးတို့ရဲ့.

I'll tell you how the
sand-pagoda
festival emerged.

ရှေးအခါက နာရဒမည်တဲ့ ရသေ့ဟာ ယမကတောင်နားက ကျောင်းသခ်န်းမှာ သီတင်းသုံးနေရာက..

Long ago,there was a hermit named Narada resided in a monastery which was near the foothill of Yamaka mountain.

အမရိက မြစ်အနီးသွားရောက်ပြီး..

He went to the Amarika river and

မြစ်ကမ်းစပ်က သဲသောင်ပြင်ပေါ်မှာ သက်တော်ထင်ရှား မြတ်စွာဘုရားကို ရည်စူးကာ သဲပုံစေတီကို တည်တယ်..

With dedication to the living Buddha he built a sand-pagoda.

ပြီးတော့ အဲဒီသဲပုံစေတီကို ဘုရားရှင်ကိုယ်စား ရှိခိုးပူဇော်လေ့ရှိတယ် ...

Then he worshipped this sand-pagoda as if it were Buddha himself.




အဲဒီအကျိုးဆက်ကြောင့်
နာရဒရသေ့ ကွယ်လွန်တဲ့အခါ
ဗြဟ္မာပြည်ဆီ လားရပြီး
Because of this virtuous
deed, when he died he came
to the abode of brahma.




ဘဝအဆက်ဆက်မှာလည်း
သိကြားမင်း စကြဝတေးမင်း အကြိမ်ကြိမ်
ဖြစ်ပြီး လူ့စည်းစိမ် နတ်စည်းစိမ်တို့ကို
ကြိမ်ဖန်များစွာ ခံစားစံစားရတယ်ကွယ့်
Throughout his successive life
he became sakka, master of
universe, and existed in the realm
of human alternately.


တပေါင်းလမှာ ထင်ရှားတဲ့ နောက်ပွဲတော်ကြီးတစ်ခုကတော့ ရွှေတိဂုံဘုရား တပေါင်းပွဲတော်ပဲ ဖြစ်တယ်ကွဲ့.
The most prominent pagoda festival was the Shwe Dagon pagoda festival.


ရှေးအခါကတော့ ရွှေတိဂုံဘုရားတပေါင်းပွဲတော်ဆီ အနယ်အနယ်အရပ်ရပ်ကနေ လှည်းတွေနဲ့ လာကြရာက
In ancient time, the pilgrims used to come to Shwe Dagon pagoda with ox-drawn carts from various places.


ဘုရားခြေတော်ဝန်းကျင်မှာ လှည်းဝိုင်းကြီးတွေဖြစ်ပေါ်ပြီး အင်မတန် ပျော်ဖို့ကောင်းခဲ့တာပေါ့ကွယ်
Around the foothill of Shwe Dagon pagoda, there were myriad of ox-drawn carts and very enjoyable.


ကဲ မြေးတို့ရေ မြေးတို့လို မြန်မာကလေးငယ်တွေ သိသင့်သိထိုက်တဲ့ မြန်မာ့ဆယ့်နှစ်လရာသီက ပွဲတော်များအကြောင်းကို သေသေချာချာ ပြောပြပြီးပြီနော်
Grandchildren, I've told you about the festival all the year round in detail and carefully.


ဘာသာရေးနဲ့ဆက်နွယ်တဲ့ ပွဲတော်တွေဟာ မြန်မာလတိုင်းလိုလို ရှိနေပြီး မျိုးဆက်သစ်တို့ လက်ထက်မှာလည်း
Those are religious festivals and every month has its own festival.






မြန်မာ့ရိုးရာ အမွေအနှစ်ဖြစ်တဲ့ ဆယ့်နှစ်လရာသီပွဲတော်တွေကို မပျောက်မပျက် ဆက်လက်ထိန်းသိမ်းကျင်းပနိုင်ကြပါစေလို့ ဘိုးဘိုး ဆန္ဒပြုဆုတောင်းလိုက်ပါရဲ့ကွယ်
I pray that those traditional and religious festival will be able to carry on successive generation.
သမီးတို့ ကြိုးစား ပါ့မယ် ဘိုးဘိုး
We will try to conserve them grandpa.


သားလည်း ကြိုးစားမယ်
I'll try my best too.


အေး ကောင်းပါပြီကွယ် ကောင်းပါပြီ
I'm glad to hear that.


ပြီး

The End.

